# " မာတိကာ "





# “ ယက္ကန်းစင်တောင်နှင့် တည်ရှိရာ”



❖ ဒို့တိုင်းပြည်ရွာ-ပြည်မြန်မာ၌
သုံးတောင်ယက္ကန်း-အရောက်လှမ်းလာ
မတ္တရာ၌-မှန်စွာတည်ရှိ-အောင်သိဒ္ဓိဟု
လူသိများပေ-တည်ရှိလေ၏....

❖ ထိုမှတဖော်-နေပြည်တော်လယ်ဝေး
ကားလမ်းဘေးတွင်-ရန်ကုန်မှထောက်
၁၈၅ မိုင် အရောက်တွင် - လက်ျာမာန်တိုင်
အင်ကြင်းမြိုင်ဟု-ကြိုးကြာဘဝ

❖ ဒို့ဗုဒ္ဓရှင်-ဖြစ်ခဲ့စဉ်နှင့်-ဆင်မင်းဘဝ-သာရိပုတ္တရ
နေထိုင်ခဲ့ဘူး-အထူးအောင်မြေ-ဖြစ်ပါချေ၏

❖ မွန်ပြည်နယ်ရှိ-ဘီးလင်းမြို့အပိုင်
မဟာမြိုင်ဟု-မည်တွင်မည့်ခေါ်
ထိုတောင်ပေါ်တွင် - ကေလာသဖ-ကေလာသနှင့်
မဏိမေခလ-ဗုဒ္ဓဒေးခင်-ထိုမှတဝ

❖ သတ္တဌာပါ-စဉ်လာတည်ကောင်း-ကျိုက်ထီးဆောင်းနှင့်
တည်ရှိဘုရား-စေတီများရှိရာ-အရပ်သာကို-သချာခေါ်နိုင်
မဟာမြိုင်ဟု-ခေါ်တွင်မှတ်သား-ထိုတောင်များသည်
ဗုဒ္ဓအောင်မြေဖြစ်နေလို့.....॥
တရားအောင်မြေအစစ်ပေမို့.....॥

**ဦးအောင်ဓမ္မသုခ(ဓမ္မဂန္ဓာရီခရီးသည်)**



# “ လွှမ်းခြင်း ”



❖ ရှုလှည့်ကြပါလော့-များလူအစုံ

သွန်းလက်ရာ-ပြုပုံအဆန်းတွေနဲ့

အဆူဆူအကုန်-စေတီတွေဖူးရအောင်လို့

ကြွလှမ်းကာတမင်လာခဲ့ပါတော့-အင်ကြင်းမြိုင်တော

အင်ကြင်းမြိုင်တော. . . . . . . .

❖ ဘုရားရယ်အစုံ-အမိဋ္ဌာန်ပုံတမူဆန်းပါလို့

တည်ဝိဇ္ဇာ-သမလ-စေတီခေါင်က

ညီဝိဇ္ဇာ-ဝိမလ-စေတီတော်တို့

တည်ရှိပါကြောင်း. . . . . . . . တည်ရှိပါကြောင်း

❖ လွမ်းစရာကြုံ-ကျောက်ဖြာခုံ ခုနစ်ချပ်ရယ်နဲ့

ဦးညြဘာ အဓိဋ္ဌာန်ပြုပါလို့

ပဏ္ဏာဏာ-တောင်းရှာသည့် ဆုရယ်က

❖ ဘဒ္ဒကမ္ဘာ-နောက်ဆုံးမှာပွင့်မည့်ဘုရားပေမို့

သာသနာ ရေရှည်ရေးကိုလ

မျှော်တွေးကာအစဉ်ကြံလို့

ဖော်ထုတ်ခါသူလေပေးခဲ့ပါတဲ့. . . . . .

အင်ကြင်းမြိုင်တော. . . . . . .

အင်ကြင်းမြိုင်တော. . . . . . .





# " ရှေးယခင်က–တအောင်သီချင်း "



ရွှေချည်-ငွေချည်-သန်းပါလို့-ယက္ကန်းရွှေစင်-ကန်းရွှေစင်

ရွှေချည်-ငွေချည်-သန်းပါလို့-ယက္ကန်းရွှေစင်-ကန်းရွှေစင်

ယက္ကန်းစင်-အို-ယက္ကန်းစင်

ပျိုလေးယက်တဲ့-ယက္ကန်းစင်-မလေးယက်တဲ့ ယက္ကန်းစင်-

တစ်ပင်-နှစ်ပင်-ချည်ခင်ရှုပ်တယ်-သုံးပင်-လေးပင်-ချည်ခင်ရှုပ်တယ်

ငါးပင်-ခြောက်ပင်-ချည်ခင်ရှုပ်တယ်-ခုနစ်ပင်-ရှစ်ပင်-ချည်ခင်ရှုပ်တယ်

အမယ်ဘုတ်ရယ်တဲ့-သူချည်ခင်.......

ဘယ်သူဝင်လို့---ရှင်းပါမယ်လေး.....

ဘုရားငုတ်တို-ရောင်တော်လွှတ်မှ-ရွှေရောင်တွေဝင်းကြမယ်ပ

မောင်ကြီးရေ------အောက်ပြည်ကို စုန်-ဆန်ပြေးပါလို့ ကျုပ်မှာလိုက်တယ်လေ

လက်ခပ်သံ-လက်ခပ်သံ-မလေးလက်ခပ်သံ

လက်ခပ်သံ-လက်ခပ်သံ-ပျိုလေးလက်ခပ်သံ

လက်ခပ်သံ ကျွန်းဖိုသား-သောင်းတိုက်ကကြားသလေ့လေ့

ဘယ်သူ ဘယ်သူ ဝင်ပါမှ သည်အရှုပ်အထွေး - ဘယ်သူဘယ်သူဝင်ပါမှ

သည်အရှုပ်ထွေး - အေးနိုင်ပါ့-မယ်လေး အေးနိုင်ပါ့မလေး...

လက်ခပ်သံ-လက်ခပ်သံ-ပျိုလေး လက်ခပ်သံ-လက်ခပ်သံလက်ခပ်သံ-

မလေးလက်ခပ်သံ-လက်ခပ်သံ ကျွန်းဖိုသား သောင်းတိုင်က - သောင်းတိုင်က-

သောင်းတိုက်က ကြားသလေလေး...........



## " သိချင်းအခိပ္ပါယ်ဖြေရှင်းခြင်း "

❖ရွှေချည်-ငွေချည်-သန်းပါလို့-ယက္ကန်းရွှေစင်-ကန်းရွှေစင်- ဟူသည်မှာ

သံသရာတစ်ဖက်ကမ်းသို့ အမှန်လွတ်မြောက်အောင်မြင်လိုသော ရွှေရောင်၊ ငွေရောင် ဘုရားတို့အောင်မြေ ယက္ကန်းစင်တောင်ဌာနေကို ဖော်ပြခြင်းဖြစ်ပါသည်။

❖ပျိုလေးယက်တဲ့-ယက္ကန်းစင်-မလေးယက်တဲ့ ယက္ကန်းစင်- ဟူသည်မှာ

ဗုဒ္ဓဘုရားရှင်ပေါ် ဂုဏ်တော်ကိုးပါးအမြဲမပြတ်ပွားများရမည် ဖြစ်ပါကြောင်း၊ ပျိုလေး+မလေး = ၅+၄ = ၉ ပင် ဖြစ်ပါချေတော့သည်။

❖တစ်ပင်-နှစ်ပင်-ချည်ခင်ရှုပ်တယ်-သုံးပင်-လေးပင်-ချည်ခင်ရှုပ်တယ်-ဟုဆိုရာတွင် အတတ်ပညာ ရှစ်မျိုးတွေ (၁) ဖြဒါးဝိဇ္ဇာ (၂)အင်းဝိဇ္ဇာ (၃)ဆေးဝိဇ္ဇာ (၄)စမဝိဇ္ဇာ (၅) မာဏ္ဍန်ဝိဇ္ဇာ(၆)ဗေဒဝိဇ္ဇာ (၇) ဂန္ဓာရီဝိဇ္ဇာ(၈)မွေဝိဇ္ဇာ တည်းဟူသော ပညာရှစ်ခန်းဖြင့် ရှုပ်ထွေးမနေကြရန်ဖြစ်ပါသည်။

❖အမယ်ဘုတ်ရယ်တဲ့-သူချည်ခင်-ဘယ်သူဝင်လို့---ရှင်းပါမယ်လေးဟုဆိုရာ၌

လူတွင် ဓာတ်လေးပါးခေါ် ပထဝီ-တေဇော-အာပေါ-ဝါယော-ဓာတ်ဖြင့် ဖွဲ့စည်းထားကြောင်း ထိုသို့ပေါင်းမှုကြောင့် သမုဒယသစ္စာဖြစ်ပေါ်လာကြောင်း၊ ထိုသမုဒယနာမ်ရုပ် ရမှုကြောင့် ဒုက္ခသစ္စာနာမ်ရုပ်ဖြစ်ရကြောင်း၊ ထိုဒုက္ခသစ္စာနာမ်ရုပ်သည်လည်း ဖြစ်၊တည်၊ပျက်၊ချုပ်နေရသောကြောင့် မဂ္ဂသစ္စာ နာမ်ရုပ်ဖြစ်ကြောင်း၊ ထိုသမုဒယ၊ ဒုက္ခ၊ မဂ္ဂ၊ သစ္စာသုံးပါးဖြစ်နေတည်နေသော နာမ်ရုပ်သည် နောက်ဆုံးချုပ်ငြိမ်းရပါသောကြောင့် နိရောဓသစ္စာနာမ်ရုပ်သာလျှင်ဖြစ်ကြောင်း ထိုသို့ ရှုပ်ထွေးနက်နဲသော အကြောင်းကို ဘယ်သူလာ၍ ရှင်းလင်းပေးပါမည်နည်း ဟုဆိုပါသည်။

❖ဘုရားငုတ်တိုရောင်တော်လွှတ်မှ ရွှေရောင်တွေဝင်းကြမယ်ပေါ့သည်-

ယခင်က တည်ရှိခဲ့သော ဘုရားစေတီတော်များပြန်လည်ပေါ်ပေါက်လာခြင်းကိုဆိုသည်။

❖အောက်ပြည်ကို စုန်ဆန်ပြေးပါလို့-ကျုပ်မှာလိုက်တယ်ဟူသည်မှာ-

အောက်ခြေလူတန်းစားမှ အထက်တိုင်ပေါက်ရောက်အောင် ဆောင်ရွက်နိုင်စွမ်းထသော-ပြည်ညက်အောင်ဆောင်ရွက်တတ်သော သူဖြစ်ရမည်ဟု ဆိုပါသည်။ (တစ်နည်း)အထက်မဂ်-အောက်မဂ်ဟုဆိုအပ်သော တရားအားထုတ်ရရှိခြင်းနယ်ပါယ်သို့ ရောက်နေသူဖြစ်ရပါမည်ဟု ဆိုပါသည်။

❖လက်ခပ်သံ ကျွန်းဖိုသား သောင်းထိုက်က ကြားသလေးဟူသည်ကား-

လက်ခပ်ဟူသည် (၄ +၂ = ၆) ဘုန်းတောက်ခြင်း(ဝါ)အချိန်ရောက်၍အောင်မြင်ခြင်း-အမှုပြုခြင်းကို (ကျွန်းဖို)သား (၂+၅) = ၇ စနေသားက စောင့်ရှောက်ဖော်ထုတ်ပေးပါလိမ့်မည်ဟု ဆိုလိုရင်းသဘောဖြစ်ပါကြောင်း စေတနာလောင်း၍ဖြေရှင်းပေးအပ်ပါသည်။

ဦးအောင်ဓမ္မသုခ

နယ်လှည့်ဓမ္မဂန္ထရီခရီးသည်

# " ယက္ကန်းသုံးတောင်နှင့် တည်နေရာ "

မြန်မာနိုင်ငံတွင် ယက္ကန်းစင်တောင်ဟူ၍ သုံးတောင်ရှိပါသည်။ ၎င်းတို့မှာ-

၁။ အောင်သိဒ္ဓိ ယက္ကန်းစင်တောင် - မတ္တရာမြို့နယ်

၂။ အင်ကြွင်းမြိုင် ယက္ကန်းစင်တောင်-နေပြည်တော်-လယ်ဝေးမြို့နယ်

၃။ မဟာမြိုင် ယက္ကန်းစင်တောင်-မွန်ပြည်နယ် ဘီးလင်းမြို့နယ် တို့ဖြစ်ကြပါသည်။

# " ယက္ကန်းသုံးတောင်သမိုင်းအကျဉ်း "

၁။ အောင်သိဒ္ဓိယက္ကန်းစင်တောင်-မတ္တရာမြို့နယ်

အောင်သိဒ္ဓိ ယက္ကန်းစင်ဖြစ်တည်လာရခြင်းအစမှာ -ဘဒ္ဒကမ္ဘာ၌ ပွင့်တော်မူကြသော ဗုဒ္ဓဘုရားရှင်တို့ နုစဉ်ကာလ ဆုတောင်းပတ္ထာပြုခဲ့ကြသော (၀ါ)အမိဌာန်ပြုခဲ့ကြသော နေရာတူညီနေကြသော နေရာဖြစ်ပါသည်။

အဟံဇိနာဋ္ဌိ ဗုဒ္ဓံဝရံ သပ္ပညုနု

အတိတေဇာဋ္ဌိဘဝေ ဒဏ္ဍာသော

ဇဟိ ဂဝံပဋ္ဌိယံ

ငါသည်ဘုရားစင်စစ် သဗ္ဗညုတ ဘုရားဖြစ်မည်ဆိုပါက ဘဝဟောင်းက ဖြစ်ခဲ့ဘူးသော အရိုးစုတို့သည် ဤနေရာဌာနသို့ လာရောက် စုစည်းကြ၍ ကျောက်တောင် ကျောက်ဆောင်ဖြစ်ပါစေသတည်းဟု သစ္စာမိဌာန်ပြုခဲ့ကြသောကြောင့် ကျောက်တောင်ငါးတောင်စုပေါင်း ဖြစ်တည်နေသော တောင်တော်ကို ခေါ်ပါသည်။



၂။ အင်ကြွင်းမြိုင်ယက္ခန်းစင်တောင် နေပြည်တော်၊ လယ်ဝေးမြို့နယ်

ဘုရားရှင်ကိုယ်တော်တိုင် မြန်မာနိုင်ငံ အရပ်ရပ်သို့ ဒေသစာရီကြွချီတော်မူသည့်အခါ ဗျာဒိတ်ပေးဖော်ညွှန်းခဲ့သော နေရာသုံးနေရာမှ တစ်နေရာဖြစ်ပါသည်။ ဖော်ညွှန်းခဲ့သောနေရာများမှာ-

၁။ ပုပ္ပါးတောင်-ကျောက်ပန်းတောင်တွင် တည်ရှိပြီး သာသနာထွန်းကားနေသောနေရာဖြစ်ပါသည်။

၂။ ရွှေနတ်တောင်-ရမည်းသင်းမြို့၏အရှေ့ဘက်(၁၄)မိုင်အကွာ မောင်တော်တောင်မှ တစ်ဆင့်သွားရသော အမတော်တောင်ဟုခေါ်သော ရွှေနတ်တောင်ပင်ဖြစ်ပါသည်။ ဘုရားရှင် နစဉ်ကာလ-ကရဝိဋ် ငှက်မင်းဘဝနေထိုင်ခဲ့သောတောင် ဖြစ်ပါသည်။ကရဝိတ်တောင်မှ-ဂဠုန်တောင်-မဟူရာတောင်-နတ်ရှင်တောင်-ရွှေနတ်တောင်ဟု ပြောင်းလဲဖြစ်လာသော တောင်တော်ဖြစ်ပါသည်။

၃။ အင်ကြွင်းမြိုင်ယက္ခန်းစင်တောင်-ဘုရားရှင်နစဉ်ကာလ ကြိုးကြာ ငှက်မင်းဘဝနေထိုင်ခဲ့သော အရှင်သာရိပုတ္တရာ-ဆင်ဖြူတော်ဘဝ နှစ်ပါးနေထိုင်ခဲ့သောတောင်တော်ဖြစ်ပါသည်။ ဘုရားရှင်တို့ နစဉ်ခါဘုရားအလောင်းတော်ဘွဲ့ယူသောတောင်ဖြစ်ပါသောကြောင့် ကြိုးကြာတောင်၊ ဘွဲ့ခံတောင်၊ အင်ကြွင်းမြိုင် ယက္ခန်းစင်တောင်ဟု ခေါ်တွင်ရပါသည်။

ထိုသုံးတောင်သည် ဗျာဒိတ်ပေးဖော်ညွှန်းခဲ့သော တောင်တော်များဖြစ်ကြပါသည်။





၄။ မဟာမြိုင်ယက္ကန်းစင်တောင်-မွန်ပြည်နယ်-ဘီးလင်းမြို့နယ်

ဘုရားလောင်းများ၊ ပစ္စေက ဗုဒ္ဓလောင်းလျာများ၊ ရဟန္တာလောင်းလျာများ တို့ ခြောက်ဘဝတိုင်တရားလှည့်လည် အားထုတ်ခဲ့ကြရသော နေရာထူးဖြစ်ပါ သောကြောင့် သုဝဏ္ဏဘူမိဟုခေါ်ဆိုခြင်းကို အကြောင်းပြု၍ သုဝဏ္ဏဘူမိမြို့တော် ကို တည်ထောင်ခဲ့သည်ဟုဆိုပါသည်။ ဘုရားရှင် ခွင့်ပြုချီးမြှင့်ပေးအပ်သော - ဆံတော်ခြောက်ဆူအား သကြားမင်း ကမကဌပြု၍ ဂဝမ္ပတိ ရဟန္တာမထေရ်မြတ် ပင့်ဆောင်ခဲ့သော ဆံတော်ခြောက်ဆူအား-ကေလာသ-ကေလာသဖ-မဏိ မေခလာ၊ ဒေးခင်၊ သက္ကဋ္ဌူပ၊ ကျိုက်ထီးဆောင်း၊ စသဖြင့်သော စေတီများတည်ရှိ ရာမြေကို မဟာမြိုင် ယက္ကန်းစင်တောင်ဟုခေါ်ပါသည်။ အဓိပတိတောင်မှာ မူကား ဝေပုလ္လတောင်ပင်ဖြစ်ပါတော့သည်။

ဤသို့ဖြင့် ယက္ကန်းစင်တောင်သုံးတောင်၏ တည်နေရာနှင့် သမိုင်းအကျဉ်း အားဖော်ပြအပ်ပေသည်။ နှစ်ပရိဝေဒကြာညောင်းကြပြီဖြစ်ပါသောကြောင့် ဒဏ္ဍာရီ မဟုတ်သော ဤအကြောင်းခြင်းရာအား အကျဉ်းသုံး၍သာ ဖော်ပြအပ်ပါသည်။

## " ယက္ကန်းသုံးတောင်နှင့် ဦးဩဘာသ "



ယက္ကန်းစင်တောင် ဦးဩဘာသမထေရ်မြတ်ကြီးသည် မြန်မာနိုင်ငံ၌ သုံးကြိမ်သုံးခါ ပေါ်ပေါက်ခဲ့ဘူးပါသည်။ ရန်ကုန်မြို့ ရွှေတိဂုံရင်ပြင်တော်ရှိ အရှင် အစ္စဂေါဏတန်ဆောင်အတွင်း၌ ရှေးယခင် နှစ်ပေါင်း(၁၂၀၀)ကျော်က ပေါ်ပေါက် ခဲ့သော ယက္ကန်းစင်တောင် ဦးဩဘာသ၏ ပုံတော်ဟု မတ်တပ်ရပ်လျှက် တောင်ဝှေး ကိုင်ပုံတော်အားလည်းကောင်း၊ နှစ်ပေါင်း(၇၅၀)ကျော် ပုဂံခေတ် နောက်ပိုင်း၌



ပေါ်ပေါက်ခဲ့သော ယက္ကန်းစင်တောင်ဆရာတော် ဦးဩဘာသ၏ ပုံတော်ဟု ထိုင်လျှက် အနွေးဆွယ်တာပုံယူစအပ်သော အပြာရောင် အကျီကို ဝတ်လျှက် သယ်န်းဝတ်ရုံထားသော မျက်မှန်တပ်ထားသော တရုတ်ဆရာတော်တပါးပုံ သဏ္ဍာန်မျိုး ထိုပုံတော်များကို တန်ဆောင်အတွင်း၌ တရားဝင်ပြဋ္ဌာန်းထားခဲ့ ဘူးပါသည်။

ယနေ့ လူအများ စုံစမ်းမေးမြန်းနေကြသော ယက္ကန်းစင်တောင် ဦးဩဘာသမှာ - လွန်ခဲ့သော နှစ်ပေါင်း (၁၈၆)နှစ်အကျော် ကုန်းဘောင်ခေတ် နှောင်းပိုင်း၌ ပေါ်ထွန်းခဲ့ပါသည်။ မိဘပေးသော အမည်နာမမှာ မောင်လှရှင်ဖြစ် သော်လည်းစကားနည်းခြင်း၊ မပြောဖြစ်အောင် ကွမ်းဝါးနေခြင်းတို့ကြောင့် မောင်ကွမ်း၊ ကိုကွမ်း၊ ဦးကွမ်းဟုသော အမည်တွင်ခဲ့သူဖြစ်ပါသည်။ ထိုဦးကွမ်း သည် အဖဦးရာကျော် အမိဒေါ်ငွေနှစ်တို့မှ မွေးဖွားလာသော သားသမီး(၆)ဦးမှ ဖြစ်ပါသည်။အသက်(၄၂)နှစ်တွင် မတ္တရာမြို့နယ်ရှိ အောင်သိဒ္ဓိယက္ကန်းစင်တောင်၌ လူဝတ်ကြောင်နှင့်ပဉ္စမံဝိဇ္ဇာဖြစ်ပြီးသည့်နောက် ရဟန်းပြုရာ ဦးဩဘာသ အမည်ရခဲ့ပါသည်။ တောင်ပေါ်တွင် အောင်သိဒ္ဓိ၊ တောင်အောက်တွင် အောင်သိဒ္ဓိ ဟူသော စေတီနှစ်ဆူတည်၍ ဆယ်နှစ်တာသီတင်းသုံးနေထိုင်ရင်း အများသတ္တဝါ တို့အား နိုင်စွမ်းသမျှ ကယ်ချွတ်ရင်း ဆယ်နှစ်ပြည့်မြောက်သည့် အခါ

မဟာမြိုင် ယက္ကန်းစင်တောင်သို့ ကူးပြောင်းရောက်ရှိ၍ ကေလသ- ကေလာသဖ-မဏိမေခလ-ဒေးခင်-သက္ကဋ္ဌူပ-ကျိုက်ထီးဆောင်း-အစရှိသော ဘုရားရှင်သက်တော်ထင်ရှားရှိစဉ်က တည်ထားပူဇော်ခဲ့ခြင်းကို ပြုလုပ်ဆောင်ရွက်၍ ဆယ်နှစ်တာသီတင်းသုံးနေထိုင်ရင်း နိုင်စွမ်းသမျှ သတ္တဝါအနန္တကိုကယ်တင် စောင့်ရှောက်တော် မူပြန်ပါသည်။



ထိုမှတဖန်-ဆယ်နှစ်ကာလ ပြည့်မြောက်သောအခါ နေပြည်တော် လယ်ဝေးမြို့နယ်အတွင်း အောင်သာရွာအနီး တည်ရှိသော အင်ကြင်းမြိုင်ယက္ကန်းစင် တောင်တော်သို့ ရောက်ရှိပြီး အဓိဋ္ဌာန်ပြုရာ ခုနစ်ခုသော ကျောက်ဖြာပေါ်ပေါက် လာခဲ့ပြီးလျှင် အားထုတ်မှုအစဉ်ပြီးသောအခါ လေးချပ်သော ကျောက်ဖြာ ကွယ်ပျောက်၍ သုံးချပ်ကား ယနေ့တိုင် ကျန်ရှိနေခဲ့ပါသည်။ထိုသို့နေစဉ်ကာလ အတွင်း၌ တောင်တွင်းကြီး၊ တပ်ကုန်း၊ ရမည်းသင်း၊ ပျော်ဘွယ်မြို့တို့တွင် သီတင်းရှိ ခဲ့သော ဒုတိယယက္ကန်းစင်ဆရာတော်ဟုသမုဒ်ကြကုန်သော ဦးဥက္ကံမထေရ်အား ဖူးချင်း၊ ရမည်းသင်း၊ ပျဉ်းမနား၊ တောင်ငူ ဒေသတို့၌ ဦးဓမ္မပါဠ ဟူ၍ဖူးချင်း၊ လယ်ဝေးမြို့နယ် အောင်သာယက္ကန်းဒေသတွင် ဦးဝိစိတ္တ(ကြောင်မျက်ရှင်) ဆရာတော်ဟူ၍ သုံးပါးမွေးထုတ်ခဲ့ပါသည်။

ထိုယက္ကန်းသုံးတောင်သို့ လှည့်လည်၍ဆယ်နှစ်စီ သီတင်းသုံးနေထိုင် တော်မူခဲ့သော ယက္ကန်းစင်တောင်ဆရာတော် ဦးဩဘာသသည် မန္တလေးမြို့ စိန်ပန်း ရပ်ကွက် ဘုရားဖြူဘေးတွင် ပဋ္ဌမအကြိမ် မထင်မရှား ခန္ဓာစွန့်ခွာသွားသောကြောင့် မန္တလေးသား ဦးအောင်ကျော်က ဂူသွင်းသဂြိုလ်ခဲ့ကြောင်း၊ ထိုမှတဖန် တောင်ကြီးမြို့ တွင် နောင်တနှစ်တွင် ထပ်မံတွေ့ရ၍ မြစိမ်းတောင်နှင့် ရွှေဘုန်းပွင့်စေတီအား ဖော်ထုတ်တည်ထားရာ သုံးနှစ်ကြာခဲ့ပြီး လေးနှစ်ပြည့်မြောက်သည့်အခါ တောင်ငူ သို့ သွားရန် ဆင်းအလာတွင် ဟဲဟိုးအလွန်ရွာကလေး၌ ဒုတိယအကြိမ် ခန္ဓာဝန် ချပါသောကြောင့် တောင်ကြီးသား ဦးကျော်က ဂူသွင်းပူဇော်ခြင်း၊ ထိုမှတဖန် တောင်ငူသို့ နောက်နှစ်တွင် ရောက်ရှိပြီး တောင်ငူမြို့ပေါ်ရှိသော ရွှေဆံတော် စေတီအား တစ်နှစ်ကြာ မွမ်းမံပူဇော်ခဲ့ပြန်ပါသည်။ ထိုသို့နှစ်နှစ်ပြည့် မြောက်သောအခါ တောင်ငူမြို့မှ တောင်ကြီးပြန်မည်ဟု ပြောဆိုထွက်ခွာရာ

တောင်ငူမြို့မှ အထွက်တွင်ပင် တတိယအကြိမ် ခန္ဓာဝန် ချသည့်အတွက် ပဲခူးမြို့မှ သာသနာပြု ဦးသိန်းနှင့် အဖွဲ့သားများကပင့်ဆောင်ပြီးလျှင် ဒေးစွန်ပါ ဘုရားအနီး၌ ယက္ကန်းစင်တောင်ဆရာတော်ဘုရားကြီး ဦးဩဘာသ၏ နောက်ဆုံးအရိုးဂူဟု တည်ထားကိုးကွယ်ပူဇော်ထားကြောင်း သိရပေသည်။

ထိုဖြစ်တို့အား လက်ခံစဉ်းစားနိုင်ရန်အတွက် အာယုမိဝိဋကဌာ ကျမ်းနှင့်ညှိမှသာ ရေးရေးသိလာနိုင်ပါသည်။

ဒို့ဘုရားရှင်သည် ဘုရားမဖြစ်မှီ ကာလတွင် တုသိတာနတ်နန်းတွင် အလောင်းတော်နတ်သားအဖြစ် နေထိုင်ခဲ့ပါသည်။ သို့စဉ်တွင် နောင်ပွင့်လာမည့် အလောင်းတော် နတ်သားများနှင့် အတူတကွသာလျှင် ဖြစ်ပါသည်၊ အလောင်းတော်နတ် သားများသည် နတ်သက်မကြာချေ၏ ပါရမီပြည့်ကြကြောင်း လည်းရှိပါသည်။ လူနှင့် နတ်တို့၏သက်တန်းညှိရာတွင် လူတို့၏ အသက်(၅၀)ပြည့်တိုင်း၊ လူနှင့်တကွ ဖြစ်တည်နေကြသောစတုမဟာရာဇ် ဘုံသားနတ်များမှာ သက်တန်းတရက်မျှသာဟု ဆိုပါသည်-ထိုစတုမဟာရာဇ် နတ်တို့(၂)ရက်ရလျှင် တာဝတံသာနတ်တို့က တစ်ရက် ထိုတာဝတိသာနတ်တို့(၂)ရက်ရလျှင် တုသိတာ နတ်တို့တစ်ရက်မျှသာ နတ်သက်ရ၍ လူသက်တန်(၈၀၀)ခန့်မှာမှ သက်တမ်းတရက် မျှသာရသေးသော တုသိတာ နတ်နန်း၌ နေကြသော အလောင်းတော်နတ်သားတို့ အာရုံပြု၍ ခေတ္တခဏ ပါရမီဖြည့်ကြသော် လူတို့၌ နှစ်(၈၀)ခန့် (၉၀)ခန့်နေ၍ ပြန်သွားကြောင်း သိအပ်ပေသည်။ ဤသို့ ယက္ကန်းသုံးတောင်နှင့် ဦးဩဘာသ ဆက်စပ်ပုံနှင့် တကွ ဦးဩဘာသ ၏ ဖြစ်စဉ်တစိတ်တစ်ဒေသကို ဖော်ပြရေးသား တင်ပြအပ်ပေသည်။





# " အစဉ်အဆက်ထိန်းသိမ်းကြပုံ "



မဏ္ဍလာရာနယ်မြေ၌ရှိသော အောင်သိဒ္ဓိ-လယ်ဝေး၌ရှိသော အင်ကြင်းမြိုင်-ဘီးလင်းမြို့နယ်၌ရှိသော မဟာမြိုင်ယဏ္ဍာန်းစင်တောင်တော်တို့အား သမစဉ်ဆက်ဆက်လက်၍ ထိန်းသိမ်းစောင့်ရှောက်ခဲ့ကြသော ရဟန်းပုဂ္ဂိုလ် ရသေ့ပုဂ္ဂိုလ် လူပုဂ္ဂိုလ်များရှိနေခဲ့ကြပါသည်။ ယနေ့တိုင်ပင်ဖြစ်ပါသည်။

## " တပည့်ကြီးဦးဝိစိတ္တ--ကြောင်မျက်ရှင် "



အင်ကြင်းမြိုင် ယဏ္ဍာန်းစင်တောင်တော်အား တပည့်ဖြစ်သူ အောင်သာရွာသား ဦးဝိစိတ္တ(ကြောင်မျက်ရှင်)ဆရာတော်ကြီးမှ ကြီးမှူး၍ ဆက်လက်ထိန်းသိမ်းစောင့်ရှောက်ရင်း-၂၅၀၀-သာသနာပြည့်နှစ်တွင် ယခင်ရှေးက ကြွရောက်၍ ဘုရားတည်ပူဇော်ခဲ့သော သမလစေတီ ဝိမလဝိဇ္ဇာတို့၏ ဘုရားစေတီအား မိဌာန်ပြုရှာဖွေဖော်ထုတ်၍ နယ်သူ/နယ်သား များ၏ စုပေါင်းစောင့်ရှောက်မှုဖြင့် သမလစေတီ ဝိမလစေတီ ဝိဇ္ဇာညီနောင်ဘုရား အား မွမ်းမံတည်ထားခဲ့ကြပါသည် သို့ပြီးသည့်နောက်တစ်နှစ်ပြည့်တိုင်းတပေါင်း လပြည့်နေ့တွင် ပဋ္ဌာန်းဒေသနာရွတ်ဖတ် ပူဇော်ကြခြင်း၊ နယ်တွင်းရှိသံဃာတော် များအား ပင့်ဖိတ်၍ သံဃာပူဇနိယ ပွဲတော်ကျင်းပပေးခြင်း၊ ဆီမီးတစ်ထောင် ထွန်းညှိပူဇော်စေခြင်းများကို စီစဉ် ဆောင်ရွက်စေခဲ့ပါသည်။ အရွယ်ကြီးရင့်လာသော အခါတပည့်ဖြစ်သူ ဦးသောဘိတ






(အောင်သာကျောင်းတိုက်) ဆရာတော်အားထိုတာဝန်ကိုလွှဲ၍ မိမိကမူ လှည့်လည် အားထုတ်ခြင်းဖြင့်အချိန်ယူ၍ ဘဝနတ်ထံ ပျံလွန်တော်မူခဲ့ရှာပါသည်။ သို့အတွက် တပည့်ဖြစ်သူ ဦးသောဘိတမှ အမွေ ဆက်ခံရယူ၍ နှစ်စဉ်နှစ်တိုင်း ပြုမြဲဖြစ်သော ပဌာန်းရွတ်ဖတ် ပူဇော်ခြင်း၊ ဆီမီး ထွန်းပူဇော်ခြင်း၊ သံဃာ့ ပူဇနီယပွဲကျင်းပပြုလုပ်ခြင်းဖြင့် ဆက်လက်ထိန်းသိမ်း စောင့်ရှောက်ခဲ့ကြရင်း အောင်သာဆရာတော် ဦးသောဘိတမှ ၂၇ တောင် အောင်သိဒ္ဓိစေတီအား တည်ထားခဲ့ပါသည်။

## "နယ်လှည့်ဓမ္မဒူရ ရသေ့ကြီး ဦးဏ္ဍိနသတ္တ"



သက္ကရာဇ် -၁၃၃၀ ဝန်းကျင်တွင် ရခိုင်လူမျိုး-ရန်ကုန်နေ ဦးဏ္ဍိနသတ္တ ရသေ့ကြီးသည် အောင်သာသို့ရောက်ရှိကပြီးလျှင် စောင့်ရှောက်မှု ကင်းနေသော တစ်နှစ်မှသာတစ်ကြိမ် ပွဲပြုလုပ်သော ယက္ကန်းစင်တောင်အား မှီခို၍ တရားအား ထုတ်ရင်းနေထိုင်ခွင့်ပြုရန် လျှောက်ထားမှုအား ဦးသောဘိက ဆရာတော်မှ ခွင့်ပြု၍ ဦးဏ္ဍိနသတ္တရသေ့ကြီးသည် တရားထိုင်ခြင်းအားထုတ်ခြင်း၊ အင်္ဂရပ်ပညာများ လေ့ကျင့်ခြင်းစသည်တို့ပြုလုပ်ကျင့်ကြံအားထုတ်ရင်းမှ ယက္ကန်းစင်တောင် ပေါ်တွင် စေတီငယ်လေးဆူ ကျင့်ရန် ဂူငယ်တစ်ခုနှင့်တစ်ပင်တိုင် ကျောင်းဆောင် တော်နှစ်ဆောင်ကိုလည်းကောင်း၊ ရသေ့ကြီးနေထိုင်ရာအနီးတဝိုက်၌ရေတွင်း တူးပြီးလျှင် သရက်ပင်များစိုက်ခြင်းဖြင့်တောင်တော်အား တိုးတက်ပွားများလာ စေခြင်းအကျိုးဌာ တစ်ဖက်က မိမိအတွက် တစ်ဖက်က သာသနာတော်နှင့် အများသတ္တဝါအတွက်ဖြည့်စွက်ပါရမီ ရယူခဲ့သော မြေလည်းဖြစ်ပါပေသည်။




## "နယ်လှည့် ဓမ္မဂန္ဓာရီ နဂါးမယ် ဒေါ်အေးသန်း"

တရားလှည့်လည်အားထုတ်ရင်း၊ မိမိအာရုံပြုမိရာအရပ်ဒေသ၌ ဘုရားတည်ထားသည့်အလေ့အထရှိသော မေတ္တာတရားကို လက်ဆုပ်လက်ကိုင်ပြု၍ တရားဘာဝနာမှုပြုတက်သော နဂါးမယ် ဒေါ်အေးသန်းသည် အင်ကြွင်းမြိုင်ယက္ကန်း စင်တောင်သို့ ၁၃၄၅ ခုနှစ်ခန့်တွင်ရောက်ရှိပြီး ဉာဏ်တော် ဆယ်တစ်တောင်တမိုက် ရှိသော ဝိဇ္ဇာယပူစနိယ စေတီ အားတည်ထားပြန်ပါသည်။ တံခွန်တိုင်တော် ခေါင်းလောင်းတော်နှင့်တကွ ပြည့်စုံစွာပင်တည်ထားကိုးကွယ်ပူဇော် ပေးခဲ့ပြန်ပါသည်။

## "ဗိုလ်မှူးကြီးသံဒိုင်နှင့်ယက္ကန်းစင်တောင်"

ဆရာတော် ဦးသောဘိတသည် ထိုသို့ဘုရားစေတီ များပြားလာသောအခါ ရဟန်းတော်များအား စီစစ်၍ ယက္ကန်းစင်တော်ပေါ်တွင် သီတင်းသုံး၍ စောင့်ရှောက်ပေးရန် လာသမျှသော တရားလိုလားရဟန်း၊ ရသေ့၊ ယောဂီ၊ လူပုဂ္ဂိုလ် များအား စောင့်ရှောက်ရန် ရဟန်းများစတင်၍ စီစဉ်ချထားပြီးလျှင် လူပုဂ္ဂိုလ်အားဖြင့်၊ ဦးထွန်းလှိုင်၊ ဦးစောတင်လှတို့အား အဖွဲ့များဖွဲ့စေ၍ စောင့်ရှောက်စေခဲ့ပါသည်။သို့ စောင့်ရှောက်သောအဖွဲ့နှင့် ဗိုလ်မှူးကြီး သံဒိုင်တို့စုစည်းကြ၍ ပူးပေါင်းကြပြီးလျှင် ယခင် ဆီမီးတစ်ထောင်မှ ဆီမီး (၉၀၀၀)အဖွဲ့အဖြစ်လည်းကောင်း၊ ကျိုက်ထီးရိုးမှ သာသနာပြုအဖွဲ့များဖြင့် ခင်မင်ရင်းနှီးစေခြင်းဖြင့်လည်းကောင်း၊ နိုင်ငံစွမ်းသမျှ ဒေသဖွံ့ဖြိုးမှုကိုပါရှေးရှုရင်း၊ နှစ်စဉ် ကျင်းပမြဲဖြစ်သော တပေါင်းလပြည့် အင်ကြွင်းမြိုင်တောင်တော် သံဃာပူဇနိယပွဲတော်နေ့နှင့်ပဋ္ဌာန်း

(၅)ရက်ရွှတ်ဖက်ပူဇော်ပွဲကျင်းပခြင်း၊ ဆီမီး (၉၀၀၀)ပူဇော်ခြင်း ကိုဂေါပကများဖွဲ့၍ ထူထောင်စောင့်ရှောက်ပေးရင်း ရဟန်းခံ သိမ်တော်အားတည်ဆောက်ပူဇော်ခြင်း၊ နေမိတရုပ်ပွားနှင့် ဓမ္မာရုံ ဆောက်လုပ်လှူဒါန်းခြင်း လာသမျှ ပရိတ်သတ် အဆင်ပြေစေရန် ရေအိုးစဉ်များဆောက်လုပ်ပူဇော်ခြင်း ဝိဇ္ဇာဓာတ်နန်းဆောင် ဆောက်လုပ်ပူဇော်ခြင်း ရုပ်တော်မူဘုရားတည်ထားကိုးကွယ်ပူဇော်ခြင်းကိုပြုခြင်း နောက် အနိစ္စသဘော ဖြစ်တည်ခဲ့ပါသောကြောင့် ကျန်ရှိသော မျိုးဆက်များသည် တောင်တော်စောင့်ရှောက်ရေးသံဃာများနှင့်ပူးပေါင်း၍ ယနေ့တိုင်နှစ်စဉ်စောင့် ရှောက်နေကြဆဲဖြစ်ပါတော့သည်။

## "စောင့်ရှောက်ခွင့်ရ ဦးသောဘိတ"



ဦးသောဘိတသည် အရှင်သည် ဆရာတော် ဦးဝိစိတ္တ(ကြောင်မျက်ရှင်) ၏ မွေးစားသားတပည့်အရင်းဖြစ်ပါသည်။ ငယ်စဉ်ကာလတွင်အတူတကွထား၍ ပညာသင်ပေးပြီးလျှင် ပျဉ်းမနား-ရမည်းသင်းတို့၌လည်းကောင်း၊ ခရမ်းသုံးခွသို့ စေလွှတ်၍ စာပေပရိယတ် လိုက်စားစေခြင်းဖြင့်လည်းကောင်းပညာအမွေအပေး ခံရသူလည်းဖြစ်ပါချေသည်။ သို့မှတဖန် အောင်သာရွာသို့ သက်တော် ၃၀ ကျော် တွင်ပြန်လည်ပင့်ဆောင်၍ ကျောင်းတော်နှင့်တကွ အောင်သာကျေးရွာ-ယက္ကန်းစင် ကျေးရွာ မင်းရေးကျေးရွာတို့အား သာသနာကိစ္စအဝဝကို ပြုလုပ်ပေးစေလျက် အင်ကြင်းမြိုင်ယက္ကန်းစင်တော်တော်အား ကြပ်မတ်စောင့်ရှောက်ရန် တာဝန်ပေး အပ်ခြင်းခံရပါ၏။ ထို တာဝန်ပေးအပ်စဉ်အတိုင်းကျေးရွာများအားလည်းကောင်း၊ တောင်တော်အားလည်းကောင်း၊ ရဟန်းများလူအားတို့ဖြင့် တက်စွမ်းနိုင်







သမျှ စောင့်ရှောက်၍ လာရင်း ဦးတေဇိန္ဒ အရှင်အား တောင်တော်စောင့် တာဝန်ပေးအပ်ပြီး သုံးနှစ်အကြာ ၁၃၇၂ တွင် ဘဝနတ်ထံပျံလွန်တော်မူခဲ့ရ ပါသည်။

## "လွှဲပြောင်းစောင့်ရှောက်ခွင့်ရဦးတေဇိန္ဒ"



ဦးတေဇိန္ဒသည် ဆရာတော် ဦးသောဘိတ၏ သာသနာနယ် မင်းရေးရွာ သားဖြစ်စေ၊ ငယ်နာမည်မှာ မော်ထွန်းမြင့်ဖြစ်ပါ၏ ကြီးမှ ရဟန်းဝတ်ရသူဖြစ်ပါ သည်။ ရဟန်းမပြုမှီအိမ်ထောင်ရှိခဲ့ဖူးပါ၏ ထိုအိမ်ထောင်အား စွန့်၍ အနီးကပ် ကြပ်မတ် စောင့်ရှောက်သော မင်းရေးရွာဆရာ တော် ဦးဩဘာသ နှင့်အောင်သာ ဆရာတော် ဦးသောဘိတတို့ ပူးပေါင်း၍ ရဟန်းတို့လုပ်ရန်ကိစ္စအဝဝကို အမြန်သိ စေ ကြားနာစေ၍ အင်ကြင်းမြိုင် ယက္ခန်းစင်တော်အား စောင့်ရှောက်ရန် တာဝန်ပေး အပ်ခဲ့ကြပါ၏။ရဟန်းပရိသတ် လူပရိသတ်တို့ နှင့်စုံညီစွာအပ်နှံသော ရဟန်းဖြစ်၏။

ယခင် ဦးတေဇိန္ဒ မရောက်မှီ ကာလကလည်း ဦးသောဘိတ အရှင်သည် ရဟန်းများထား၍ ကြီးကြပ်စောင့်ရှောက်ရာ ဦးဇင်းသိမ်ကုန်း ဦးပညာဝရ-ဦးစန္ဒဝရ တို့ရှိနှင့်ခဲ့ကြပါ၏။

ဦးဇင်းသိမ်ကုန်းကား လူထွက် အိုးအိမ်ထောင်ထူသွားခြင်း ဦးပညာဝရကာ အသက်ကြီးရင့်နေသူဖြစ်ခြင်း ဦးစန္ဒဝရအား အကျင့်သန်မှုများဖြင့် ဝစိပိတ်နေခြင်း တို့ကြောင့် တောင်တော်သို့ တရားကျင့်ရန် ရောက်လာကြကုန်သော ရဟန်း ရသေ့- ယောဂီ-လူထု အားစောင့်ရှောက်ပေးနိုင်ရန်အတွက် လည်းကောင်း၊ ပေါ်ပေါက် ရမည့် သာသနိက အဆောက်အဦးများဖြစ်တည်လာစေရေးအား ရှေးရှု၍






လည်းကောင်း ဦးတေဇိန္ဒအားတာဝန်ပေးအပ်လွှဲပြောင်းခဲ့ပါသည်။

ထိုသို့တောင်တော်၏ တာဝန်အားလွှဲပြောင်းရယူပြီးချိန်မှစ၍ အိုမင်းနေသော ဓမ္မာရုံအား ပြုပြင်မွမ်းမံ၍ ဓမ္မပါဠိကျောင်းတိုက်ဟူ၍ လည်းကောင်း၊ ဆရာတော်ကြီးရှိ စဉ် (ဝါ) တာဝန်ယူစဉ်ကရောက်ရှိ၍ အမိဋ္ဌာန်ပြုဘုရားတည်နေသည် ဦးအောင်ဓမ္မသုခရသေ့ကြီးနှင့်အတူ ဆရာတော်၏မိန့်မှာကြား လမ်းညွှန်ချက်များအတိုင်းဘုရားစေတီပြုပြင်ခြင်း၊ တည်ဆောက်ခြင်း၊ ဗုဒ္ဓ ဘိသေက မင်္ဂလာကိစ္စရပ်များ၊ သာသနာတော်အတွင်း ဝင်ရောက်လာသော ရဟန်းများ အား စီမံဆောင်ရွက်ပေးခြင်း၊ ဒေသခံ စာပေသင်ကြားရာတွင် အခက်အခဲကြုံတွေ့နေကြရသောကလေးငယ်များအား အေးချမ်းစွာစာပေသင်ကြားနိုင်ရေးအတွက် ပညာရေးဌာနနှင့် တိုင်ပင်ညှိနှိုင်းပြီး ဘုန်းတော်ကြီးသင်စာသင်ကျောင်းဖန်တည်းတည်ဆောက်ခြင်း၊ သံဃာများညီညွတ်စေရန်အတွက် တောင်တော်သံဃာသမဂ္ဂဖွဲ့စည်းထူထောင်ခြင်း စသောအထွေထွေလုပ်ငန်းရပ်များနှင့်တကွ ပို၍ တိုးတက်ထွန်းကားလာအောင် ဦးအောင်ဓမ္မသုခ ရသေ့ကြီးနှင့် တိုင်ပင်၍ ဆရာတော်ဦးသောဘိတ၏ လမ်းညွှန်မှာကြားချက်များ စေခိုင်းတာဝန်ပေးအပ်မှုများကိုတက်စွမ်းသမျှ နိုင်သမျှသော စွမ်းပကားတို့ဖြင့် စောင့်ရှောက်လိုက်နာလုပ်ဆောင်၍ ဘုရားစေတီအသစ်များတည်ခြင်း၊ ကျောင်းများဆောက်လုပ်ခြင်းလာရောက်ကြကုန်သော တရားလိုလား၊ ရဟန်းများ-ရသေ့များ-ယောဂီများ လူပုဂ္ဂိုလ်များကို စောင့်ရှောက်လျက်သာသနာ့ နယ်မြေသမုဒ်ခဲ့သော (၁၅၈)ကေသော ယက္ကန်းစင်တောင်တော်အား ထိန်းသိမ်းစောင့်ရှောက်ပေးလျှက် ဦးအောင်ဓမ္မဆောက်လုပ်ပြီးစီးလှူဒါန်းသောကျောင်းများတွင် သင့်သောသံဃာတော်များအား သီတင်းသုံးစေခိုင်းလျက်



ရှိပါသည်။

ဤသည်ကပင်လျှင် ဦးဩဘာသ ဆရာတော်ဘုရားကြီးမှ ဦးဝိစိတ္တ (ကြောင်မျက်ရှင်) ဆရာတော်သို့ ထိုမှတဖန် ဦးသောဘိတ (အောင်သာ ဆရာတော်)သို့ ထိုမှ ဦးတေဇိန္ဒသို့ ပြောင်းလဲ စောင့်ရှောက်လာခဲ့သည်မှာ မှန်ကန် သောကြောင့် ဦးတေဇိန္ဒသည် ဦးဩဘာသ၏ နောက်ဆုံးမျိုးဆက်ဟူ မမှားချေ-

## "ဦးအောင်ဓမ္မသုခ ရသေ့ကြီးနှင့်အင်ကြင်းမြိုင်ယက္ကန်းစင်တောင်"

ဦးအောင်ဓမ္မသုခ ရသေ့ကြီးသည် ယက္ကန်းစင်တောင်တော်သို့ ပထမ ၁၃၆၈ ခုနှစ် ဝါခေါင်လတွင် ရောက်ရှိ၍ ဦးတေဇိန္ဒသို့ အကြောင်းပြုခွင့်ပန်ပြီးလျှင် အဓိဋ္ဌာန် ပဌမ (၉) ရက်ဒုတိယ (၉)ရက်ပေါင်း (၁၈)ရက်အဓိဋ္ဌာန်ပြုနေထိုင်၍ တောင်တော် တွင် (၂၁)ရက်ကြာနေထိုင်သီတင်းသုံးခဲ့ဘူးပါသည်။

ထိုမှတဖန် ၁၃၆၈ ခုနှစ် တန်ဆောင်မုန်းလတွင် ပြန်လည်ရောက်ရှိ၍ အောင်သာ ဆရာတော် ဦးသောဘိတ၏ တောင်းခံမှုဖြင့် ဆရာတော်ကြီး၏ ရုပ်ထု များကို အောင်သာ ကျောင်း၌ နှစ်လကြာ ထုဆစ်ပူဇော်ပေးပြီး၍ အောင်သာဆရာ တော်မင်းရေးဆရာတော်တို့နှင့်အတူ အနောက်တောဟု ခေါ်အပ်သောအလယ် ရိုးမ တောင်ပေါ်ဒေသများသို့အတူတကွ လှည့်လည် အားထုတ်ခဲ့ပါသည်။ထို ခရီးစဉ်၌သစ်ခမ်းမကျေးရွာ၊ အုတ်ဖိုကျေးရွာ သက္ကလ်ကျင်းလေး လယ်ပြင်ပ စည်ကိုင်း ကျိုးကျေးရွာလှည်းပွဲကြီး-လှည်းပွဲကလေးကျေးရွာ ၊ သစ်ပုတ်ပင်ကျေးရွာ ဝရဲကျေးရွာ၊မအူချုံကျေးရွာ၊မကျီးကုန်းကျေးရွာများသို့ ဒေသစဉ် လှည့်လည်ပြီး အမြန်-

သက္ကန်းစင်တောင်ပေါ်တွင် ဆရာတော်ဦးသောဘိတ လိုက်ပါသိတင်းသုံး၍ အတူတကွ အမိဋ္ဌာန်တင်ရင်း ဘုရားစေတီ စတင်တည်ထားကိုးကွယ်ပူဇော်ပေး ပါသည်။ထိုပူဇော်ရာ၌

၁။ နဂါးဖြူ နဂါးရုံ ဗုဒ္ဓရုပ်ပွား မြတ်စွာဘုရား

၂။ ဆရာတော်ဦးသောဘိတ တည်ခဲ့သောအောင်သိဒ္ဓိစေတီ၏ မပြီးပြတ်သေးသော ပန်းကနုတ်များနှင့် မနုသီဟလေးကောင် ရုပ်ထုများ

၃။ လောကပါဋ္ဌနတ်မင်းရုပ်ထုတော်

၄။ ဓမ္မပါဋ္ဌကျောင်းတိုက်တွင်း ၄ ပေရှိသော ရှေးမူရုပ်ပွားအသား သုံးမျိုးပေါင်းစပ်ထုဆစ်ပူဇော်ခြင်း

၅။ နေခြင်းတည်ထား ဘောဂသိုက်ဘုရားစေတီ

၆။ ၁၁ တောင်တစ်မိုဒ်ရှိသော အလှူ့ဒါယိကာ၊ စာရေးဆရာ သောဦးမဲ့ကိုင် (လယ်ဝေး)၏ ရွှေဘုန်းပွင့်စေတီတော်

၇။ တရုတ်ဘုန်းကြီး ဦးဒါနနှင့်အတူကွလာရောက်သိတင်းသုံး နေထိုင်၍ တတိုင်းအောင်စေတီတော်

၈။ နဂါးရုံ ဗုဒ္ဓရုပ်ပွားလောကပုဏ်ဘုရား

၉။ ဒါယိကာ သောင်းဟန်စိုး၏ ခွင့်တောင်းချက်အရခွင့်ပြု၍ ဆောက်လုပ်စေသော ရွှေလှူကြီးကျောင်း

၁၀။ ဒါယိကာ ဦးသိန်းဆွေနှင့်မလေးရှားမှလာရောက်သော လူပုဂ္ဂိုလ်တို့အား ပေါင်းစပ်၍ တည်ဆောက်ပူဇော်စေသော



ဓမ္မာရုံတော်တို့အားဆောက်လုပ်ပြီးစီးစဉ်တွင်

၁၁။ ဖိုကိုးလုံးတောင်သို့သွားရောက်၍ ၅ လကြာမြင့် ၂၄ တောင် တမိုဒ်ရှိ လေးကျွန်းစကြာစေတီတော်

၁၂။ လောကပါဠနတ်မင်းနှင့်တံခွန်တိုင်တို့ကို ပူဇော်ပေးခဲ့ပါသည်။ (ဒါယိကာ သောင်းဟန်စိုးနှင့် ဒေါ်စန္ဒာ၊ ဦးဇော်လတ်တို့ တည်း)

၁၃။ ထိုမှတဖန် ပဌ္ဌဝဂ္ဂိငါးဦးတရားဟောဟန်ဗုဒ္ဓရုပ်ပွားအရှင်ဥပဂုတ္တ မထေရ် ကျောင်းဆောင် ၂၄ တောင်အောင်စကြာ မဏ္ဍိုင်စေတီ တို့ကို တည်ထားပူဇော်ပြီး

၁၄။ ရွှေရောင်တော်စေတီ ၁၁ တောင်တမိုဒ် ဒါယိကာ မောင် ကျော်ဌေး မိသားစု

၁၅။ ဒါယိကာဦးနေဝင်း +ဒေါ်နွေးနွေးသက်တို့၏ လောကပါဠနတ် စောင်းတီးရုပ်ထု မြွေနဂါးငါးကောင်ဆုတောင်းပြည့်ဘုရားနှင့် ၂၇-တောင် အောင်ငြိမ်းစံစေတီအားလည်းကောင်း၊

၁၆။ အလှူ့ဒါယိကာ ဦးအောင်မော်လွင် ဒါယိကာမ ဒေါ်မြင့်မြင့်သန်း တို့၏အလှူအဖြစ် ၁၈ ပေမြင့်သော အဘဦးအောင်မင်းခေါင် ရုပ်ထု၊ ပင့်ကူ-ကမ္ဘာ မင်းခေါင်ထီးဖြူဆောင်းပုံတော် ၃၆ တောင် အမြင့်ဆောင်သည့်ရန်တိုင်းအောင် စေတီတော်တို့ ကိုလည်းကောင်း၊



၁၇။ ဒါယိကာ ဦးအောင်ဇော်လတ် + ဒေါ်စန္ဒာ၏ အောင်မင်းခေါင် ငွေစေတီ (၉တောင်တမိုဒ်)

၁၈။ ဒါယိကာမ ဒေါ်လှဲ့လှဲ့ဝင်း၏ အောင်မင်းခေါင်ရွှေစေတီ (၉)တောင် တမိုဒ်) တို့ကိုတည်ထားပူဇော်ပြီး၏

၁၉။ ထိုမှတဖန် သပြေပင်ကျေးရွာအနီး တောင်နှစ်လုံးကျေးရွာ ဓမ္မဂန္ဓိရ တောင်တော်တွင် သွားရောက်၍ ၉လကြာအပြီးနှင့်စေတီတော်များ

(က) လောကကျက်သရေ သီရိဇမ္ဗူစေတီတော် ၁၂ တောင်

(ခ) ဓမ္မသိုက်စေတီတော်

(ဂ) ကျိုက်ထီးရိုးစေတီတော်

(ဃ) ရာဇမုနိ စေတီတော် နှင့်တကွ

(င) ဓမ္မ စကြာပုံတော်

(စ) သဗ္ဗဇေယျသိဒ္ဓိရုပ်ပွားတော်

(ဆ) ဗုဒ္ဓကျောင်းဆောင်တော်

(ဇ) သုမေဓါရှင်ရသေ့ဗျာဒိတ်ယူခန်းပုံတော်

(ဈ) လောကပါဠနတ်မင်းရုပ်ထု

(ည) တောင်ပိုင်ဘိုးတော်

(ဋ) တောင်စောင့်သခင်မ မမြတ်သစ်-မမြတ်လှ

တို့ကို မိဘဘိုးဘွားများအမှူးထား၍ ဦးနေဝင်းဒေါ်နွေးနွေးသက်(မိုးမိုး) သပြေပင်မိသားစု ညီအစ်ကိုမောင်နှမများနှင့်တကွ ဗိုလ်မှူးကြီးမြင့်ထူးမိသားစု ဦးအောင်ဇော်လတ် ဒေါ်စန္ဒာမိသားစု၊ ဦးမြင့်ဦး+ဒေါ်မို့မို့ တို့စုပေါင်းပူဇော်မှု



ဖြင့်တည်ထားခဲ့ပါသည်။

ဘမင်းခေါင်ဆင်စီး၍ သာသနာပြုခရီးထွက်လာဟန်ကို ဦးမြင့်ဦး-ဒေါ်မို့ မိသားစုဆောက်လုပ်ရေးမှ လှူဒါန်းပူဇော်ကြပါသည်။

သို့မှတဖန် ယက္ကန်းစင်တောင်သို့အရောက်ပြန်၍

၂၀။ ဆေးသမားတော် ကြီးစေတီတော် ဦးခင်မောင်မြင့်မိသားစု

၂၁။ ခြေတော်ရာစေတီတော် ဒုတိယဗိုလ်မှူးကြီး သန်းဇော်မိသားစု

၂၂။ ဦးအောင်သိန်းလင်းမိသားစုမှ တပါးထိုင်ကျောင်း

၂၃။ ဦးမောင်မြင့် ယက္ကန်းစင်မိသားစုမှ တပါးထိုင်ကျောင်း

၂၄။ ဆောက်လုပ်ရေး ဒေါ်ချိုမိသားစုမှ အောင်သိဒ္ဓိစေတီ

၂၅။ ဆောက်လုပ်ရေး ဒေါ်လဲ့လဲ့ဝင်းမှ ဝိပဿနာနန်းဆောင်ငယ်

၂၆။ တပ်ကြပ်ကြီး ခိုင်ကျော်ထွန်း မိသားစုမှ တပါးကျောင်း

၂၇။ သာသနာရေးဝန်ကြီး ဦးဆန်းဆင့်မှ မုဒ်ဦးတော်ကြီး ၂၈ ဆူအောင်တော်မူ ဗုဒ္ဓရုပ်ပွားစေတီတော်

၂၈။ ဗိုလ်မှူးနေဝင်းဇော်မိသားစုမှ လေးကျွန်းစကြာ စေတီတော်

၂၉။ ဦးအောင်ဇော်လတ်+ဒေါ်စန္ဒာမှ ဖားဘုရားစေတီတော်

၃၀။ အများကုသိုလ်ရှင်နှင့် ကိုးဦးမဏ္ဍိုင်ဒါယကာများမှ သီရိဇမ္ဗူ သိဒ္ဓိစေတီ

၃၁။ ဒေါ်နွေးနွေးသက်နှင့်သာသနာပြုညီအစ်ကို မောင်နှမများမှ ဝိပဿနာနန်း ကျောင်းဆောင်

၃၂။ ဦးအောင်ဇော်လတ်+ဒေါ်စန္ဒာမိသားစုမှ နဂါးရုံရုပ်ပွားတော်ကြီးနှင့် အောင်စကြာမဏ္ဍိုင်ကျောင်း



၄၉။ ရာဇာမုနိစေတီတော် ဗိုလ်မှူးကြီးသက်နိုင်မိသားစု
၅၀။ တပါးကျောင်း ဗိုလ်မှူးအေးမင်းထွန်း
၅၁။ ရွှေရောင်နဂါးရုံရုပ်ပွား ဦးသိန်းရွှေမိသားစု
၅၂။ နဂါးရုံစေတီတော် ဗိုလ်ကြီး ညီညီဇော် + ဒေါ်သက်ချစ်ပိုင်မိသားစု
၅၃။ အေးငြိမ်းချမ်းသာစေတီ ဦးယဉ်ထွေးဆွေ မိသားစု
၅၄။ အေးငြိမ်းချမ်းသာကျောင်း (၂)ပါးထိုင် ဦးယဉ်ထွေးဆွေမိသားစု
၅၅။ ဘောဂစကြာ သိုက်ဘုရားစေတီ ဦးသန့်ဇော်လွင် မိသားစု
၅၆။ လောက မာရဇိန် ဒေါ်စန်းစန်းမြင့်မိသားစု
၅၇။ လောက ရန်နိုင်စေတီ ဗိုလ်မှူးသီဟမိသားစု
၅၈။ လောကမာန်အောင်စေတီ စီးပွားကူးသန်းဝန်ကြီး ဦးဝင်းမြင့်မိသားစု
၅၉။ လောကမာန်အောင်ကျောင်း စီးပွားကူးသန်းဝန်ကြီး ဦးဝင်းမြင့် မိသားစု
၆၀။ နဂါးရုံ လာဘမုဏိရုပ်ပွား ဗိုလ်မှူးဟိန်းသိုက်အောင်
၆၁။ လောကရန်မြေ ဦးမြင့်ထွန်းနိုင် + ဒေါ်မူမူနွဲ့ မိသားစု

ထိုသို့သော စေတီတော်များကျောင်းများ ရေတွင်းရေကန် မှဒ်ဦး မီးစက် စသဖြင့်သော သာသနိက အဆောက်အအုံများပေါ်ထွန်းစေလျက် နောင် သာသနာတွင် ပျက်ပြားခြင်း နည်းနိုင်သမျှ နည်း၍ သာသနာအစွန့်ရှည်ရည် စိတ်သန်လျက် ပိဋကတ်တိုက်တော်ဆောက်လုပ်ခြင်း တရားကျောင်းဆောင်များ ဆောက်လုပ်ခြင်း တရားကျောင်းဆောင်များဆောက်လုပ်ခြင်းဖြင့် တရားစခန်း ထူထောင်ပေးခြင်းကို အဓိဋ္ဌာန်ဖြင့် သာဆောင်ရွက်အကောင်အထည်ဖော်ပေး နေခြင်းဖြစ်ပါသည်။



## "ယက္ကန်းစင်တောင်တော်ရှိ သံဃာသမဂ္ဂ"



ယက္ကန်းစင်တော်တွင် သံဃာ့သမဂ္ဂသည် ယခင်တည်းကရှိပြီးဖြစ်ပါသည်။ ယခင်ကရှိသောသံဃာ့သမဂ္ဂမှာ

| | | |
|---|---|---|
| ၁။ | ဦးသောဘိတ | (အောင်သာကျောင်းတိုက်)<br>(ပဒါန နာယကဆရာတော်) |
| ၂။ | ဦးတေဇိန္ဒ | (ယက္ကန်းစင်တောင်ကြီးကြပ်ရေးဆရာတော်) |
| ၃။ | ဦးပညာဝရ | (ယက္ကန်းစင်တောင်စောင့်ရှောက်ရေးအဖွဲ့ဝင်) |
| ၄။ | ဦးစန္ဒာဝရ | (ယက္ကန်းစင်တောင်စောင့်ရှောက်ရေးအဖွဲ့ဝင်) |
| ၅။ | ဦးဒါန | (ယက္ကန်းစင်တောင်စောင့်ရှောက်ရေးအဖွဲ့ဝင်) |

စသဖြင့် ဖွဲ့စည်းစောင့်ရှောက်ခဲ့ကြောင်းသိရှိရပါသည်။ ယခုအခါ အောင်သာဆရာတော်ပြန်လွန်တော်မူပြီးသည့်နောက်တွင် ဦးတေမိန္ဒမှစုစည်း၍

## "ယခုလက်ရှိယက္ကန်းစင်တောင်သံဃာသမဂ္ဂအဖွဲ့"



၁။ ဦးမန္ဒဓရ (နာယက) လက်ခပ်သံကျောင်း

၂။ ဦးတေဇိန္ဒ (ပဓာနနာယကဆရာတော်) ဓမ္မပါဠကျောင်း

၃။ ဦးသောဘဏ(အကျိုးဆောင်) ဓမ္မပါဠကျောင်း

၄။ ဦးကုဏ္ဍိန္နောဘာသ (အကျိုးဆောင်) အောင်စကြာမဏ္ဍိုင်

၅။ ဦးဝိလာသ (အကျိုးဆောင်) ဓမ္မပါဠကျောင်း

၆။ ဦးသုဇာန (အကျိုးဆောင်) သီရိဇမ္ဗူဗေယျသိဒ္ဓိကျောင်း

၇။ ဦးသုမဏ (အကျိုးဆောင်) ဓမ္မရက္ခိတကျောင်း

၈။ ဦးတေဇညာဏ (အကျိုးဆောင်)ရွှေဂူကြီးကျောင်း





၉။ ဦးနန္ဒိယ (အကျိုးတော်ဆောင်)မွေပါဠိကျောင်း

၁၀။ ဦးသာသန (အကျိုးတော်ဆောင်) ဓမ္မပါဠိကျောင်း

၁၁။ ဦးအောင်ဓမ္မသုခ (အကျိုးတော်ဆောင်) သာသနာပြုလုပ်ငန်း

တို့ဖြစ်ကြပြီးလျှင်တောင်တော်အား တိုးတက်လာအောင်နှင့်တကွ တရားအားထုတ်သော တောင်တော်ကြီးဖြစ်မြောက်အောင် အပါတ်တကုတ် ဆောင်ရွက်နေကြသော သာသနာ့ အာဇာနည်များဖြစ်ကြပါသည်။

ဤသို့သောဖွဲ့စည်းပုံဖြင့် ယက္ကန်းစင်တောင်တော်အား သမစဉ်၊ ဓမ္မစဉ် အဆက်စောင့်ရှောက်လျက်ရှိနေကြပါသည်။

## "ယနေ့တိုးတက်လာသော ယက္ကန်းစင်တောင်"



အို. . . ဓမ္မမိတ်ဆွေသင်သည်ပြီးခဲ့သောနှစ်ပေါင်း (၁၀)နှစ်ကရောက်ခဲ့ ဘူးသော (ဝါ)တရားလှည့်လည်အားထုတ်ခဲ့ဘူးသော ယက္ကန်းစင်တည်းဟူသော ထူးမြတ်သော တောင်တော်သည်ကား ယနေ့မျက်မှောက်ကာလတွင် ယခင်နှင့် မတူတမူထူးခြားပြောင်းလည်းတိုးတက်တည်ရှိမှုများနှင့်ကြုံတွေ့ရမည်ဖြစ်ပါသည်။ ယခင်က နေစရာကင်း၍ တောတွင်းဝင်ပြီးသစ်တပင်ရင်းဝါးတပင်အောက်တွင် အားထုတ်ခဲ့ကြရာမှ ယခုဘုရားစေတီများရှေ့မှောက်တွင် ဝပ်ပင်းခယအားထုတ် နိုင်စွမ်းရှိသော အခြေအနေသို့ရောက်ခဲ့ပေပြီ တိုးတက်ဖြစ်ထွန်းလာသော သာသနိက အဆောက်အအုံများ၊ ဘုရားစေတီများဆိုင်ရာ နတ်ကွန်းများဖြင့်တင့်တယ်လှပ နေပါတော့ပြီ ဓမ္မမိတ်ဆွေ. . .



# "အဖမွအနှစ်ဖော်ထုတ်ခြင်း"



သူတော်ကောင်းအပေါင်းတို့ ဗုဒ္ဓဘုရားရှင်သက်တော်ထင်ရှားရှိစဉ်က ယက္ကန်းသမလေးအား ဤကဲ့သို့ သောမေးခွန်းကို မေးခဲ့ဘူးပေပြီး

အိုချစ်သမီး - သင်ကားအဘယ်သူနည်း

အိုချစ်သမီး - သင်အဘယ်ကလာခဲ့သနည်း

အိုချစ်သမီး - သင်အဘယ်ကိုဆောင်ရွက်ရန်နည်း

အိုချစ်သမီး - သင်အဘယ်သို့သွားမည်နည်း

ဤအမေးပုစ္ဆာလေးခုအား ယက္ကန်းသမငယ်သည် ပဌမ အဖြေတွင် အဖ ဘုရားရှင်ဘုရားတပည့်တော်မ မသိပါ ဘုရားဟုသာ ဖြေဆိုပြီးလျှင် နောက်တဖန် ပြန်မေးစဉ် ခဏာ၌ပင်လျှင် ဇာဒိသရဉာဏ်- ပုဗ္ဗေကိဝါသဉာဏ်အာသွက္ခယဉာဏ် တို့တပြိုင်တည်းဖြစ်ပေါ်၍ နိရောဓသေစ္စာဉာဏ်ပါ ရရှိခံစားရပါသောကြောင့်

ဘုန်းတော်အလွန်တရားကြီးမြတ်တော်မူသော မြတ်စွာဘုရားပဌမမေးခွန်း ၏ အဖြေဖြစ်သော ချစ်သမီး သင်ကားအသူနည်း ဟူသောအရာအား ဦးတင်ဖြေဆို ရာ၌ ဘုရားတပည့်တော်မသည် ကံစီမံရာမှဖြစ်တည်၍ လာရသော ကံစီမံမှုဖြင့် ဖြစ်တည်နေရပါသောဓာတ်ကြီးလေးပါး ပေါင်းစုစောင့်ရှောက်ခံရသော လူဟု ပညတ် အပ်သော သတ္တဝါပါဘုရား

သင်အဘယ်ကလာခဲ့သနည်းဟူမူကာ ပြုခဲ့ဘူးသော ကုသိုလ်ကံ အကုသိုလ် ကံ၏အကြောင်းကြောင့်လူဟူသောအကျိုးဖြစ်ထွန်းလာခဲ့ ရသူပါဘုရား



သင်အဘယ်ကိုဆောင်ရွက်ရန်နည်းဟူမူကား လောက၌ ကောင်းမှု၊ မကောင်းမှုတို့ကို ယှဉ်တွဲဖြစ်ပေါ်နေမှုအား ရှင်းအောင်ရှု၍ မကောင်းမှု မပြုမိစေပါဘဲလျက် ကောင်းမှုပြုရန်နှင့်လွတ်လမ်းအမှန်လျှောက်လှမ်း ရန်အတွက်သာပါဘုရား

သင်အဘယ်သို့သွားမည်နည်းဟူသောအဖြေကား အိုအဖဘုရားရှင် လောက၌ ဖြစ်တိုင်းနာမ်ရုပ်များအစဉ်ချုပ်နေကြကြောင်းဘုရားတပည့် တော်သိနေပါပြီးအရှင်မြတ်ဘုရားဟု လျှောက်ထားမှုအစဉ်ကိုရှေးရှု၍ တရားလိုလား အဖြေရှာသမားတို့သည် တရားရှာဖွေရာ၌ဤမည်သော မေးခွန်းလေးခုအား မိမိကိုယ်ကိုမေးမြန်းစုံစမ်း၍ ဘဝအမွေအနှစ်ဖော် ထုတ်ရစ်ကြပါရန်

အကာဠိကောစ

ဓမ္မဝရ-တော-သဗ္ဗပုဂ္ဂလေ ဟူသည်နှင့်အညီ မိမိ၏ ဖြစ်စဉ်နှင့်တကွ ဓမ္မအမွေအဖော်ထုတ်နိုင်ကြပါရန် အင်ကြင်းမြိုင်ယက္ကန်းစင်တော်မှ သုံးတောင်ကိုယ်စားဖိတ်ကြားအပ်ပါသည်း သူတော်ကောင်းအပေါင်း တို့.

## "လှမ်းလာခဲ့ပါ"

မိတ်ဆွေ-သင်သည်တရားလိုလားပွားများအားထုတ်လိုပါလျှင် အောင်မြေ ဖြစ်သော အင်ကြင်းမြိုင်ယက္ကန်းစင်တောင်သို့လာခဲ့စေချင်သည် အားထုတ်စေချင်ပါ သည်။ သင်လုပ်ပါမှသင်ရမည့်ကိစ္စဖြစ်ပါသည်။

ရန်ကုန်မှ နေပြည်တော်သို့ အသစ်ဖော်ဆောင်ပြီးဖြစ်သောကားလမ်း အတိုင်းလာခဲ့သော မိုင်တိုင် အမှတ်(၁၈၅/၅)သို့ရောက်လျှင်ရောက်ပါပြီ မိတ်ဆွေ-

မန္တလေးမှ ရန်ကုန်သို့သွားလျှင် ထိုအမြန်လမ်းမကြီးအတိုင်း နေပြည်တော်သို့ခွဲဝင်သော လမ်းဆုံမှ ကျော်၍ ရန်ကုန်ဖက်သို့ ဆက်လက်လာရာ (၁၈၅/၅)မိုင်တိုင်အမှတ်သို့ရောက်လျှင်ရောက်ပါပြီး မိတ်ဆွေ သင်သည် လွတ်လပ်ပေ့ါပါးစွာစိတ်ကိုခံစား၍ တရားတော်များပွားများအားထုတ်နိုင်ပါပြီ မိတ်ဆွေ ယက္ကန်းစင်တောင်သည်ကား မိုင်တိုင်အမှတ် ၁၈၆/၃-မှ ၁၈၄/၄ အထိ ဧကပေါင်း (၁၅၈)ဧကဖြစ်တည်ပါကြောင်း တပ်ပေါင်းသိစေအပ်ပါသည်။ ဓမ္မမိတ်ဆွေ-

## "တရားရှုမှတ်ရာမှ သိနိုင်သောတရား"

ငါ သည် မည်သူပါနည်း

ငါ သည် အဘယ်အရပ်ဌာနကလာခဲ့ဘိသနည်း

ငါသည် အဘယ်အရာလုပ်ရန်ရှိသနည်း

ငါသည် အဘယ်မည်သောအရပ်သို့ပြန်ရလေမည်နည်း

ဤအမေးဖြေနိုင်သည်ထိရအောင်အားထုတ်ရယူသင့်ပါကြောင်း

# "လောကသစ္စာတရား"

ငါလေရှုမှတ် စာပေဖတ်ရင်
စာတတ်အကျော်အမော်ဖြစ်နိုင်သည်

ငါလေသတိကပ် အလုပ်တတ်အောင်
မပြတ် ကြိုးစား လုပ်ဆောင်သွားရင်
အတတ်ကျော်မော် ဖြစ်နိုင်သည်

ငါလေပြုမူ သတိစု၍
ဒုက္ခကင်းအောင် အသိဆောင်ထား
ပွားများအောင်လုပ် ချမ်းသာအဟုတ်ကို
မချွတ်ပိုင်ပိုင် ရယူနိုင်၏

ငါသည်ကြုံရ ဘုံဘဝ၌
တွေထိခံစား ဖြစ်စဉ်များကို
ကောင်းမှု မကောင်းမှု ကြည့်ရှုဖယ်ရှား
သတိထား၍ စွမ်းအား အကုန် သိဉာဏ်စုံနှင့်
ရွှေ့တုံဆုတ်တက် အကျိုးသက်အောင်
ဆောင်ရွက်ကြည့်ရှု သတိပြုလျှင်
ကေန် ထုတ်ခြောက် နိဗ္ဗာန်ရောက်နိုင်
ရယူပိုင်အောင်
ငါသည်စွမ်းဆောင်ရမည်ကို

# "သစ္စာတရားရှာဖွေပုံ"



လေးပါးခါတ်အစု ပေါင်းကာပြုသော်
သင်ဟုခေါ်သမုဒ် သည်နာမ်ရုပ်
နာမ်ရုပ်ဖြစ်ထား ဓာတ်လေးပါးသည်
ပေါင်းလာမှန်စု ဖြစ်တည်မှုကြောင့်
သမုဒယသစ္စာ ဖြစ်စဉ်အလာကို
ကောင်းစွာသင်ရှု သတိပြုလော
သမုဒယသစ္စာ ဖြစ်တည်လာလျှင်
ဇကန်မုချ ဒုက္ခသစ္စာ
ဖြစ်စဉ်လာကို ကြည့်ရှုမှတ်သားပွားပါများလျှင်
ဖြစ်၊ တည်၊ ပျက်၊ ချုပ် ဟုတ်တိုင်းမှန်ရာ
မဂ္ဂသစ္စာကို သင်လေအသိ
ကြည့်ရှုမြဲစေ သတိဝေဂ
မုချသေချာ နိရောဓကို မကွေမကွင်း
စင်းစင်းမြင်သိ သင်ရရှိမည်
ဓမ္မအစဉ်အလာ ဖြစ်စဉ်မဟာတည်း
ဤသည့်တရား ဖြစ်စဉ်များကို
ဟုတ်တိုင်းမှန်ရာ သင်ဖွေရှာလျှင်
သင်သည်မုချ ဇကန်ရမည်
သံသရာမှ လွတ်ကြောင်းတည်း

ဦးအောင်ဓမ္မသုခ (ဓမ္မဂန္ဓာရီခရီးသည်)

ကူးသန်းရောင်းဝယ်ရေးနှင့်စားသုံးသူရေးရာဦးစီးဌာန

သွင်းကုန်လုပ်ငန်းဌာနခွဲမှ ညွှန်ကြားရေးမှူးနှင့်

အရာထမ်း၊ အမှုထမ်းများမှ လှူဒါန်းပါသည်။

"ဟိန်း" ကွန်ပျူတာ၊ နေပြည်တော်မြို့မဈေး၊ ၀၆၇-၄၂၀၄၃၆

## "လောကသစ္စာတရား"

ဒါလေရှုမှတ် စာပေဖတ်ရင်
စာတတ်အကျော်အမော်ဖြစ်နိုင်သည်

ဒါလေသတိကပ် အလုပ်တတ်အောင်
မပြတ် ကြိုးစား လုပ်ဆောင်သွားရင်
အတတ်ကျော်မော် ဖြစ်နိုင်သည်

ဒါလေပြု့ သတိရ၍
ဒုက္ခကင်းအောင် အသိဆောင်ထား
ပွားများအောင်လုပ် ချမ်းသာအဟုတ်ကို
မချွတ်ပိုင်ပိုင် ရယူနိုင်ပါ

ဒါသည်ကြုံရ ဘုံဘဝ၌
တွေ့ထိခံစား ဖြစ်စဉ်များကို
ကောင်းမှု မကောင်းမှု ကြည့်ရှုမပယ်ရှား
သတိထား၍ ဓမ္မအား အကုန် သိဉာဏ်စုံဖြင့်
ရှုတုံ့လုပ်တက် အကျိုးသက်အောင်
ဆောင်ရွက်ကြည့်ရှု သတိပြုလျှင်
ကောန် ထုတ်ပြောက် နိဗ္ဗာန်ရောက်နိုင်
ရယူပိုင်အောင်
ဒါသည်စွမ်းဆောင်ရမည်ကို...

